ကန့်သတ်

**ကုမ္ပဏီအမည်** - Thai Faster Products and M.K Company Limited

**လုပ်ငန်း** - စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၁၂-၉-၂၀၁၄ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၁၉-၉-၂၀၁၄ | ၃၀-၉-၂၀၁၄ | |
| | (ခ) ကျန်းမာရေးဝန်ကြီးဌာန | ၂၄-၉-၂၀၁၄ | ၁၀-၁၀-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၄-၉-၂၀၁၄ | ၁၃-၁၀-၂၀၁၄ | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၂၄-၉-၂၀၁၄ | ၁၃-၁၀-၂၀၁၄ | |
| | (င) ရန်ကုန်တိုင်းဒေသကြီးအစိုးရ အဖွဲ့ | ၂၄-၉-၂၀၁၄<br>၁၁-၁၀-၂၀၁၄ | ၁၅-၁၀-၂၀၁၄ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၃၇/၂၀၁၄) သို့ တင်ပြခြင်း | ၂၂-၉-၂၀၁၄ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၂-၉-၂၀၁၄ | | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင် အစည်းအဝေး (၂၃/၂၀၁၄) သို့ တင်ပြခြင်း<br>(ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။<br>(ဂ) ပြည်ထောင်စုအစိုးအဖွဲ့သို့ တင်ပြရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။ | ၁၀-၁၀-၂၀၁၄ | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၂၀)စုံ လက်ခံရရှိ | ၂၄-၁၀-၂၀၁၄ | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | (၄၃) ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Thai Faster Products and M.K Company Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၅) ၊ မြေကွက်အမှတ်(၄၆၇-က) ရှိ မြေ (၂.၀၃၆)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၂.၀၀ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၇ နှစ် ၁၁ လ |
| IRR | - ၁၅.၉၆% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | |
| ၄ | ဝင်ငွေခွန် | ၁၀၂.၄၀ | ၁၀၀၄.၄၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၃၂၉.၁၁ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၃၁၈.၁၈ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |

| | | | |
|---|---|---|---|
| ၈ | CSR (၁%) | | ၀.၁၄ |
| ၉ | မြေငှားရမ်းခ | | ၁၁၉.၂၃ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၃၅၆ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၁၀၄.၀၈ | ၂၇၇၂.၂၂ |
| ၁၁ | Cost : Benefit | ၁ : ၂၆ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Thai Faster Products and M.K Company Limited တည်ထောင်၍ စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - **Thai Faster Products and M.K Company Limited**<br>- Mr.Wichian Chaisathaporn (ထိုင်းနိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Thai Faster Products Co., Ltd. (Thai) ၆၀%<br>- Mantakanok Co., Ltd. (Thai) ၃၀%<br>- MK Co., Ltd. (Myanmar) ၁၀% |
| | လုပ်ငန်းအမျိုးအစား | - စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်း စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၅)၊ မြေကွက် အမှတ် (၄၆၇-က) |
| | မြေပိုင်ရှင် | - ဦးပြည့်ဖြိုး |
| | မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်း စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၅)၊ မြေကွက် အမှတ်(၄၆၇-က)ရှိ မြေ(၂.၀၃၆)ဧက(၈၂၃၉.၄၁ စတုရန်း မီတာ) |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - US$ ၄၁၄၀၀.၀၀(တစ်စတုရန်းမီတာလျှင် US $ ၅.၀၂ နှုန်း) |



F:\Thai Faster MIC (Memo).doc

| | | |
|---|---|---|
| | မြေငှားရမ်းကာလ | - ၅ နှစ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - US$ ၂.၀၀ သန်း |

US $ (သန်း)

| | နိုင်ငံခြား (၉၀%) | နိုင်ငံသား (၁၀%) | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁.၈၀ | ၀.၂၀ | ၂.၀၀ |
| **စုစုပေါင်း** | **၁.၈၀** | **၀.၂၀** | **၂.၀၀** |

| | | |
|---|---|---|
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် ကုန်ကြမ်းစာရင်း | - ပြည်ပမှ တင်သွင်းမည့် ကုန်ကြမ်းများကို တင်ပြထားပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | - **၃၆၄ ဦး** |
| | ပြည်တွင်း | - ၃၅၆ ဦး |
| | ပြည်ပ | - ၈ ဦး<br>(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ၉၀,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၁,၄၂၅,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၆၅၀.၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂၅၀၀.၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၉၀% နှင့် ပြည်ပ ၁၀% |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US $ ၁၅.၇၉ သန်း |
| | အသုံးစရိတ် | - US $ ၁၅.၅၄ သန်း |
| | အသားတင်အမြတ် | - US $ ၀.၂၅ သန်း |

| | | |
|---|---|---|
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - US $ ၀.၃၂ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US $ ၀.၇၁ သန်း |
| | အရင်းကြေကာလ | - ၇ နှစ် ၁၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၅.၉၆% |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဌမမြောက်နှစ်) | - ၉၅၀,၀၀၀ kwh |
| ၁၂။ | နှစ်စဉ်ထုတ်လုပ်မှု(ဆဌမမြောက်နှစ်) | |

| ပစ္စည်း အမျိုးအစား | Packing Per Carton | ထုတ်လုပ်မှု အရေအတွက် | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်) | ပြည်ပ (US$) |
| Hero Jelly Cup | 20g x 35 cups x 12 bags | ၄၇၅၂၀၀ | ၅၂၈၀၀ | ၉၆၀၀.၀၀ | ၁၀.၀၀ |
| Hero Plus Jelly | 120gx 6 bags x 16 packs | ၁၇၈၂၀၀ | ၁၉၈၀၀၀ | ၁၃၅၈၄.၀၀ | ၁၄.၁၅ |
| Daiyamoto Light Kit Jelly Cup | 55 g x 15 cups x 12 packs | ၂၃၇၆၀၀ | ၂၆၄၀၀ | ၁၂၇၃၉.၂၀ | ၁၃.၂၇ |
| Daiyamoto Big Cup Jelly | 130 g x 6 cups x 12 packs | ၃၅၆၄၀၀ | ၃၉၆၀၀ | ၁၀၁၈၅.၆၀ | ၁၀.၆၁ |

| | | |
|---|---|---|
| ၁၃။ | **စိစစ်တွေ့ရှိချက်** | - အဆိုပြုလုပ်ငန်းတွင် စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရန်ဟု ဖော်ပြထားသော်လည်း ထုတ်ကုန် ပစ္စည်းစာရင်းတွင် Jelly နှင့် Jelly cup များကိုသာ ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။ |

| | | |
|---|---|---|
| | | - ကုန်ကြမ်း ပစ္စည်းစာရင်းတွင် ဝယ်ယူရန် ဖော်ပြထား သော Konjakku Flour သည် ဂျယ်လီထုတ်လုပ်မှုတွင် အသုံးပြုရန်အတွက် ဖြစ်ပါကြောင်း၊ Konjakku Flour သည် အမျှင်ဓါတ်ပါဝင်မှုများသောကြောင့် ကိုယ်ခန္ဓာ၏ pH Level ထိန်းညှိမှုအတွက် ကောင်းမွန်သည့်အပြင် အစာခြေခြင်းအား ကောင်းမွန်ရန် အထောက်အပံ့ ဖြစ်စေပါကြောင်း တင်ပြထားပါသည်။<br>- စက်ပစ္စည်းများ ကျပ်(၁.၅၇) သန်း၊ Pick up အမျိုး အစားကား(၂)စီး၊ ကုန်ကြမ်းအဖြစ် သကြား နှင့် Paper Cardboard (carton) များကို ပြည်တွင်း မှ ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- လုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းများကို ပြည်ပမှ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၂ / န-၁၀၉ / ၂၀၁၄ (၀၁၇၂-က)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၃၁ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Thai Faster Products and M.K Company Limited တည်ထောင်၍ စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ M.K Co., Ltd. မှ (၁၀%)၊ ထိုင်းနိုင်ငံ Thai Faster Products Co., Ltd မှ (၆၀%) နှင့် Mantakanok Co., Ltd. မှ (၃၀%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Thai Faster Products and M.K Company Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်(၄၆၇-က) ရှိ မြေ (၂.၀၃၆)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကို ငှားရမ်း၍ စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးပြည့်ဖြိုး နှင့် Thai Faster Products and M.K Company Limited တို့ကြား ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်း စာချုပ် (မူကြမ်း)၊ မြန်မာနိုင်ငံ မှ M.K Co., Ltd.၊ ထိုင်းနိုင်ငံ မှ Thai Faster Products Co., Ltd နှင့် Mantakanok Co., Ltd. တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)၊ Srinanaporn Marketing Co., Ltd. နှင့် Thai Faster Products Co., Ltd တို့အကြား ချုပ်ဆိုထားသည့် Trademark License Agreement၊ မြေအထောက်အထားများ နှင့် အဆောက်အဦဓာတ်ပုံ တို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်း စက်မှုဇုန် မြေ (၂.၀၃၆)ဧက (၈၂၃၉.၄၁ စတုရန်းမီတာ)အား တစ်စတုရန်းမီတာလျှင် US$ ၅.၀၂ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခ US$ ၄၁၄၀၀.၀၀ သန်း ရရှိမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၁ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါ သည်-

| | **နိုင်ငံခြား(၉၀%) (US$ သန်း)** | **နိုင်ငံသား (၁၀%) (US$ သန်း)** | **စုစုပေါင်း US$ (သန်း)** |
|---|---|---|---|
| ငွေသား | ၁.၈၀ | ၀.၂၀ | ၂.၀၀ |
| **စုစုပေါင်း** | **၁.၈၀** | **၀.၂၀** | **၂.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များ ထုတ်လုပ်ရာတွင် ပြည်တွင်းဝန်ထမ်း(၃၅၆)ဦး နှင့် ပြည်ပ (၈) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ၉၀,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၁,၄၂၅,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၆၅၀.၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂၅၀၀.၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များကို ပြည်တွင်းတွင် ၉၀% နှင့် ပြည်ပသို့ ၁၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းချမှု ဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | Packing Per Carton | ထုတ်လုပ်မှု အရေအတွက် | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်) | ပြည်ပ (US$) |
| Hero Jelly Cup | 20g x 35 cups x 12 bags | ၄၇၅၂၀၀ | ၅၂၈၀၀ | ၉၆၀၀.၀၀ | ၁၀.၀၀ |
| Hero Plus Jelly | 120gx 6 bags x 16 packs | ၁၇၈၂၀၀ | ၁၉၈၀၀ | ၁၃၅၈၄.၀၀ | ၁၄.၁၅ |
| Daiyamoto Light Kit Jelly Cup | 55 g x 15 cups x 12 packs | ၂၃၇၆၀၀ | ၂၆၄၀၀ | ၁၂၇၃၉.၂၀ | ၁၃.၂၇ |
| Daiyamoto Big Cup Jelly | 130 g x 6 cups x 12 packs | ၃၅၆၄၀၀ | ၃၉၆၀၀ | ၁၀၁၈၅.၆၀ | ၁၀.၆၁ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | **US $ (သန်း)** |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၁၅.၇၉ |
| (ခ) | အသုံးစရိတ် | - | ၁၅.၅၄ |
| (ဂ) | အသားတင်အမြတ် | - | ၀.၂၅ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၃၂ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၇၁ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် ၁၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၅.၉၆% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၉၆၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း၊ လုပ်ငန်းလည်ပတ် လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၃၅၆)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်ပါကြောင်း၊ အဆိုပြု လုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ပါကြောင်း၊ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ ၏ (၉-၁၀-၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေးအမှတ်စဉ်(၃၇/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၄)အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ တစ်ဖက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။

(၁) စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သော မုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များ ထုတ်လုပ်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း စီမံကိန်းရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(၂) အဆိုပါ လုပ်ငန်းကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအမံများ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအမံများ၊ လုပ်ငန်းခွင်ဘေးအန္တရာယ် ကင်းရှင်းရေး အစီအမံများ၊ စောင့်ကြည့်လေ့လာမည့် အစီအမံများ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးလုပ်ငန်းများ ဆောင်ရွက်ရန် အတွက် သုံးစွဲမည့် ရန်ပုံငွေများ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**[ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန မှ သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု မဖြစ်စေရေး အတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environment Plan- EMP) ရေးဆွဲ တင်ပြထားပါသည်။]**

**(နောက်ဆက်တွဲ-ခ)**

(ဂ) **ကျန်းမာရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ - ဂ)**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ သကြားမှစ၍ ကုန်ကြမ်း နှင့် ထုပ်ပိုးပစ္စည်းများအားလုံး ပြည်ပမှ တင်သွင်းမည်ဟု ဖော်ပြထား သဖြင့် ပြည်တွင်း ကုန်ကြမ်း အသုံးပြုနိုင်ရေး ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ထုတ်ကုန် ပစ္စည်းများမှာ ကလေးများ အများဆုံးစားသုံးမည့် အစားအစာ ဖြစ်သဖြင့် Artificial colour, Artificial flavor များမှာ food grade ဖြစ်ရန် လိုအပ်ပါကြောင်း၊ ကုန်ကြမ်း ပစ္စည်းတွင် Konjakku Flour ဝယ်ယူရန် ဖော်ပြထားသဖြင့် မည်သည့် ကုန်ပစ္စည်း ထုတ်လုပ်ရန်အတွက် ဝယ်ယူလိုကြောင်း ဖော်ပြရန် လိုအပ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

**[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ ဆောင်ရွက် မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။ ]**

**(နောက်ဆက်တွဲ-ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Thai Faster Products Co., Ltd. အမည်ဖြင့် ထိုင်းနိုင်ငံရှိ The Siam Commercial Bank ရှိ (၁၅-၉-၂၀၁၄)နေ့ ငွေလက်ကျန် ထိုင်းဘတ်ငွေ (၁.၆၀)သန်း၊ Mantakanok Co., Ltd. အမည်ဖြင့် Bangkok Bank ရှိ (၂၆-၉-၂၀၁၄)နေ့ ငွေလက်ကျန် USD (၁.၄၃)သန်း နှင့် မြန်မာနိုင်ငံမှ M.K Co., Ltd. အမည်ဖြင့် CB Bank ရှိ (၁၀-၁၀-၂၀၁၄)နေ့ ငွေလက်ကျန် ကျပ် (၁၄၈.၅၁)သန်း၊ Thai Faster Products and M.K Company Limited ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ် မိတ္တူများ၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများ နှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ Thai Faster Products and M.K Company Limited မှ တည်နေရာပြမြေပုံ၊ လုပ်ငန်း သဘောသဘာဝ ရှင်းလင်းချက်၊ ရေနှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေး ကြိုတင် ကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက် အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေး အတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်

ထားရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက် ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၃၇/၂၀၁၄ (၂၂-၉-၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းတွင် စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရန်ဟု ဖော်ပြထားသော်လည်း ထုတ်ကုန်ပစ္စည်းစာရင်းတွင် Jelly နှင့် Jelly cup များကိုသာ ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

(ခ) ကုန်ကြမ်း ပစ္စည်းစာရင်းတွင် ဝယ်ယူရန် ဖော်ပြထားသော Konjakku Flour သည် ဂျယ်လီထုတ်လုပ်မှုတွင် အသုံးပြုရန်အတွက် ဖြစ်ပါကြောင်း၊ Konjakku Flour သည် အမျှင်ဓါတ်ပါဝင်မှုများသောကြောင့် ကိုယ်ခန္ဓာ၏ pH Level ထိန်းညှိမှုအတွက် ကောင်းမွန်သည့်အပြင် အစာခြေခြင်းအား ကောင်းမွန်ရန် အထောက်အပံ့ ဖြစ်စေပါကြောင်း တင်ပြထားပါသည်။

(ဂ) စက်ပစ္စည်းများ ကျပ်(၁.၅၇) သန်း၊ Pick up အမျိုးအစား ကား(၂)စီး၊ ကုန်ကြမ်းအဖြစ် သကြား နှင့် Paper Cardboard (carton) များကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) လုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းများကို ပြည်ပမှ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ကော်မရှင်၏ ၂၃/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး စီးပွားရေးရာကော်မတီ နှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးများသို့ ဆက်လက် တင်ပြထားပါသည်။

(စ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Thai Faster Products and M.K Company Limited တည်ထောင်၍ စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေ စားနိုင်သောမုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **Thai Faster Products and M.K. Company Limited** | **Thai Faster Products Co., Ltd.**<br>Represented by: | |
| | | (၁) Mr.Wichian Chaisathaporn<br>Managing Director<br>Thai<br>Z 110742 | 99/99 Moo.4, AomNoy Sub-district, Kratungban District, Samutsakorn Province, Thailand. |
| | | (၂) Mr. Varith Bawonsakulwong<br>Director<br>Thai<br>T 810962 | 59/251 Klongkwang Sub-district, Pasricharoen District, Bangkok, Thailand. |
| | | **Mantakanok Co., Ltd.**<br>Represented by: | |
| | | (၃) Mr.Paradorn Kunkongkaphan<br>Director<br>Thai<br>AA 1092866 | 1349/35, Charoennakorn Road, Banglamphulang, Klongsan, Bangkok, Thailand. |
| | | **MK Co., Ltd.**<br>Represented by: | |
| | | (၄) U Myint Oo<br>Director<br>Myanmar<br>9/Ma Ma Na (Naing) 088757 | 333, Pyay Road, Sanchaung Township, Yangon, Myanmar. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉- ၅၀၉၈၃၈၈

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်(၃၃၃)၊ ပြည်လမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးမြင့်ဦး
ဒါရိုက်တာ

| | | |
|---|---|---|
| ၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် နှင့် ဘီစကွတ်များ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |




ကန့်သတ်

၁၇

**နောက်ဆက်တွဲ(က)**

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား

ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာ လ ၁၄ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်။

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄. ၉. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၀၉ / ၂၀၁၄ (၀၁၀၄)

၁။ မြန်မာနိုင်ငံ MK Co., Ltd. က (၁၀%)၊ ထိုင်းနိုင်ငံ Thai Faster Products Co., Ltd. မှ (၆၀%)နှင့် Mantakanok Co., Ltd. မှ (၃၀%)အစုရှယ်ယာများထည့်ဝင်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Thai Faster Products and M.K.Co., Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ကနောင်မင်းသားကြီးလမ်း၊ မြေကွက်အမှတ်(၄၆၇-က)ရှိ မြေ(၂. ၀၃၆)ဧကနှင့် ၄င်းမြေပေါ်ရှိ အဆောက်အဦတို့ကို ငှားရမ်း၍ စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထား မှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာခြင်းနှင့် ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၃၅၆)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန်အတွက် လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ကနောင်မင်းသားကြီးလမ်း၊ မြေကွက်အမှတ်(၄၆၇-က)ရှိ မြေ(၂. ၀၃၆)ဧကနှင့် ၄င်းမြေပေါ်ရှိ အဆောက်အဦတို့အား မြေနှင့်အဆောက်အဦပိုင်ရှင် ဦးပြည့်ဖြိုး ထံမှ ထိုင်းနိုင်ငံသား Mr. Luichian Chaisathaporn. က ငှားရမ်းခအဖြစ် မြေတစ်စတုရန်းမီတာလျှင် အမေရိကန် ဒေါ်လာ (၅. ၀၂)ဒေါ်လာနှုန်းဖြင့် (၅)နှစ်စာချုပ် ကနဦးချုပ်ဆိုပြီး (၂)နှစ်တစ်ကြိမ် သက်တမ်းတိုး၍ နှစ်(၅၀)ငှားရမ်း လုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံ ဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၉. ၁၀. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၄)အရ Thai Faster Products and M.K.Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Thai Faster Products and M.K.Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

ကန့်သတ်







ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT-2167
10-10-14

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၇၆၅၄ /၂၀၁၄)
ရက်စွဲ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာ ၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တင်ပြခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၉-၂၀၁၄ ရက်စွဲပါစာအမှတ်-ရက - ၂/န -၁၀၉/ ၂၀၁၄ (၀၁၀၅)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံ MK Co., Ltd မှ (၁၀%)၊ ထိုင်းနိုင်ငံ Thai Faster Products Co., Ltd မှ (၆၀%) နှင့် Mantakanok Co., Ltd မှ (၃၀%) အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Thai Faster Products and M.K Co., Ltd တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ၊ ရွှေလင်ပန်းစက်မှုဇုန် ၊ ကနောင်မင်းသားကြီးလမ်း ၊ မြေကွက်အမှတ်(၄၆၇-က)ရှိ မြေ(၂.၀၃၆) ဧကနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကို ငှားရမ်း၍ စားသောက်ကုန်၊ အချိုရည်နှင့်ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ နှစ်(၅၀) ဖြစ်၍ (၁၀) နှစ် နှစ်ကြိမ် သက်တမ်းတိုး၍ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ တည်ဆောက်မှု ကာလမှာ (၁) နှစ်ကြာမြင့်မည် ဖြစ်ကြောင်းဖော်ပြပါရှိပြီး မီးဘေးကြိုတင် ကာကွယ်မှုအစီအစဉ် ၊ လုပ်ငန်းခွင်ဘေးကင်းရေးနှင့်ကျန်းမာရေး အစီအစဉ်များကိုဖော်ပြထားပြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များအား ယေဘုယျသာ ဖော်ပြ ထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပါလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုများအနေဖြင့် စားသောက်ကုန်များကိုထုတ်ပိုးရာတွင် အသုံးပြုမည့် Plastic Bag၊ Plastic Film နှင့် Plastic Tape စသည့်တို့မှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စီမံခန့်ခွဲခြင်းမရှိပါက လေထု၊ မြေထုနှင့် ရေထုကို ညစ်ညမ်းစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ အဆိုပါလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များ ထုတ်လုပ်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်နှင့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility- CSR) အတွက် တိကျသော လုပ်ငန်းအစီအမံများနှင့် ငွေကြေးပမာဏများအား ထည့်သွင်းဖော်ပြပေးရန်၊

(ခ) အဆိုပါလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအမံများ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ ၊ လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းရေး အစီအမံများ၊ စောင့်ကြည့်လေ့လာမည့် အစီအမံများ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးလုပ်ငန်းများ ဆောင်ရွက်ရန်အတွက်သုံးစွဲမည့် ရန်ပုံငွေများပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီး / ပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ကန့်သတ်

၂၂



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ကျန်းမာရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

နောက်ဆက်တွဲ(ဂ)

စာအမှတ်၊ ၁၃မခ(က)၂၀၁၄(၄၉၁၄)/ ၁၅၀၉၁

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ( ၉ )ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းအပေါ် ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄-၉-၂၀၁၄)ရက်စွဲပါစာအမှတ်၊ ၇က-၂/န-၁၀၉/၂၀၁၄(၀၁၀၆)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ MK. Co.,Ltd. မှ (၁၀%)၊ ထိုင်းနိုင်ငံ Thai Faster Products Co.,Ltd မှ (၆၀%)နှင့် Mantakanok Co.,Ltd မှ (၃၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Thai Faster Products Co.,Ltd and MK. Co.,Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ကနောင်မင်းသားကြီးလမ်း၊ မြေကွက်အမှတ်(၄၆၇-က)ရှိ မြေ(၂.၀၃၆)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦးတို့ကို ငှားရမ်း၍ စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျန်းမာရေးဝန်ကြီးဌာနအနေဖြင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(စိန်ဝင်း၊ ရုံးအဖွဲ့မှူး)

မိတ္တူကို -

- ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန



နောက်ဆက်တွဲ(ဃ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

၂၃-၁၇၀
10.10.14

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၄-၂၀၁၅ (၃၀၉၇)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၉ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄.၉.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၀၉/၂၀၁၄ (၀၁၀၇)

၁။ Thai Faster Products and M.K. Co.,Ltd. သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ကနောင်မင်းသားကြီးလမ်း၊ မြေကွက်အမှတ်(၄၆၇-က)တွင် စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီစစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

ကန့်သတ်

၂၄

( င ) စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များ ထုတ်လုပ် ဖြန့်ဖြူးရန်ဟု ဖော်ပြထားသော်လည်း ထုတ်ကုန်ပစ္စည်းစာရင်းတွင် Jelly နှင့် Jelly cup များကိုသာ ဖော်ပြထားပါသည်။

( စ ) သကြားမှစ၍ ကုန်ကြမ်းနှင့်ထုပ်ပိုးပစ္စည်းများအားလုံး ပြည်ပမှ တင်သွင်းမည်ဟုဖော်ပြထားသဖြင့် ပြည်တွင်းကုန်ကြမ်း အသုံးပြုနိုင်ရေး ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဆ) ထုတ်ကုန်ပစ္စည်းများမှာ ကလေးများ အများဆုံးစားသုံးမည့် အစားအစာဖြစ်သဖြင့် Artificial colour, Artificial flavor များမှာ food grade ဖြစ်ရန် လိုအပ်ပါသည်။

( ဇ ) ကုန်ကြမ်းပစ္စည်းတွင် Konjakku Flour ဝယ်ယူရန် ဖော်ပြထားသဖြင့် မည်သည့်ကုန်ပစ္စည်းထုတ်လုပ်ရန်အတွက် ဝယ်ယူလိုကြောင်း ဖော်ပြသင့်ပါသည်။

၃။ သို့ပါ၍ Thai Faster Products and M.K. Co.,Ltd. မှ စားသောက်ကုန်၊ အချိုရည်နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၆၊၁၀၊၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

# INVESTMENT PROPOSAL

FOR

# Manufacturing and Distribution

of

# Foods, Soft Drinks and Jelly, Candy, Snack, Wafer and Biscuits

UNDER FOREIGN INVESTMENT LAW

IN

THE REPUBLIC OF THE UNION OF MYANMAR

"THAI FASTER PRODUCTS AND M. K. CO., LTD."

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း
နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ

စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊
အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်နှင့် ဘီစကွတ်များ
ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း
လုပ်ငန်းအတွက်

ရင်းနှီးမြှုပ်နှံလိုသူ၏
လုပ်ငန်းအဆိုပြုချက်

"ထိုင်းဖက်စ်တာ ပရောဒက်စ် အင်န် အမ်ကေ ကုမ္ပဏီလီမိတက် "

## မာတိကာ

၂၁။ ရေ နှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အစီအစဉ်

၂၂။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်

၂၃။ အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ

၂၄။ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်

၂၅။ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း

၂၆။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်

၂၇။ မြေငှားရမ်းခြင်းအတွက် စာချုပ်မူကြမ်း

၂၈။ ငှားရမ်းမည့်မြေ၏ မြေဂရန်

၂၉။ စက်ရုံဓါတ်ပုံ

၃၀။ ထုတ်လုပ်မည့်ပစ္စည်း နမူနာများ

၃၁။ Environmental Management Plan (EMP)

၃၂။ JV Agreement

၃၃။ နိုင်ငံကူးလက်မှတ်များ နှင့် နိုင်ငံသားစိစစ်ရေးကဒ် (မိတ္တူ)

၃၄။ ကုမ္ပဏီမှတ်ပုံတင်များ (မိတ္တူ)

၃၅။ အစည်းအဝေးဆုံးဖြတ်ချက်များ (မိတ္တူ)

၃၆။ ငွေကြေးအထောက်အထားများ (မိတ္တူ)

၃၇။ Trademark License Agreement Between Srinanaporn Marketing Co., Ltd. and Thai Faster Products Co., Ltd.

၃၈။ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်(ယာယီ)

၃၉။ သင်းဖွဲ့မှတ်တမ်း သင်းဖွဲ့စည်းမျဉ်း (မူကြမ်း)

၄၀။ ကုမ္ပဏီ၏ လူမှုရေးဆိုင်ရာတာဝန်ယူမှုများ (Corporate Social Responsibility –CSR) အား ရှင်းလင်းတင်ပြခြင်း။

၄၁။ စက်မှုဝန်ကြီးဌာန၏ သဘောထားပြန်ကြားချက်နှင့် ပတ်သတ်၍ကတိဝန်ခံချက်ပေးပို့ခြင်း။

၄၂။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားပြန်ချက်နှင့် ပတ်သတ်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။

To
Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No. (1), Thit Sar Road, Yankin Township, Yangon Region.

Dated : 15.9.2014.

Subject : **Submitting Investment Proposal to Myanmar Investment Commission**

Dear Sir,

Regarding about above subject, We "**Thai Faster Products and M.K. Co., Ltd.**" which established in (15 ) day of the month September , 2014 is a joint venture company invested by Thai Faster Products Co., Ltd., Mantakanok Co., Ltd. for (60%) and (30%) respectively and M.K Co., Ltd. for (10%) to do **Manufacturing and Distribution of Foods**, Soft Drinks and **Jelly, Candy, Snack, Wafer and Biscuits** in the Republic of the Union of Myanmar. The first two companies are incorporated in Thailand and M.K Co., Ltd. is a local company. Our "**Thai Faster Products and M.K. Co., Ltd.**" is situated at Plot No.467/A, Kanaung Min Thar Gyi Street, Shwe Lin Pan Industry Zone, Hlaing Tharyar Township, Yangon Region, The Republic of the Union of Myanmar and our land area is (2.036) Acre. We will do our production activity on that land and we planned (90%) of total production will sell and distribute in local market and the rest (10%) will export to foreign countries. So, we would like to request a kind permission from Myanmar Investment Commission for doing subjected business with advanced technology and machines for **Manufacturing and Distribution of Foods**, Soft Drinks and **Jelly, Candy, Snack, Wafer and Biscuits** in Myanmar under the Foreign Investment Law.

Yours' truly,
With Regards,

**(Mr. Wichian Chaisathaporn)**
Proposed Director
**Thai Faster Products and M.K. Co., Ltd.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၄ ခုနှစ်၊ စက်တင်ဘာ လ (၁၅)ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

အထက်ပါကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **"ထိုင်းဖက်စ်တာ ပရောဒက်စ် အင်န် အမ်ကေ ကုမ္ပဏီလီမိတက်"** "Thai Faster Products and M.K. Co.,Ltd." သည်စက်တင်ဘာလ၊ (၁၅) ရက်၊ ၂၀၁၄-ခုနှစ်တွင် **"စားသောက်ကုန် ၊** အချိုရည် **နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် ၊ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း"** အတွက် (Manufacturing Industry) ကို ဆောင်ရွက်ရန် ထိုင်းနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်ထားသော "Thai Faster Products Co., Ltd." နှင့် "Mantakanok Co., Ltd." တို့မှ (၆၀%) နှင့် (၃၀%) တို့ အသီးသီးနှင့် မြန်မာနိုင်ငံတွင်ဖွဲ့စည်းတည်ထောင်ထားသော "M.K Co.,Ltd." မှ (၁၀%) ပါဝင်ခြင်းဖြင့် ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ခွင့်ကို တင်ပြလျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုဇုံ၊ ကနောင်မင်းသားကြီးလမ်း မြေကွက်အမှတ် (၄၆၇-အေ) ရှိ ဧရိယာ (၂.၀၃၆ ဧက) အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိစက်ရုံတွင် အထက်ဖော်ပြပါလုပ်ငန်းအား ပြည်ပမှ ကုန်ကြမ်းပစ္စည်းများ တင်သွင်း၍ထုတ်လုပ်ပြီး ပြည်တွင်းတွင် (၉၀%) ဖြန့်ဖြူးရောင်းချ၍ နိုင်ငံခြားသို့ (၁၀%) ပြန်လည်တင်ပို့ရောင်းချရန်ရည်မှန်းကာ အဆင့်မြင့်နည်းပညာများ၊ ခေတ်မှီစက်ကိရိယာများဖြင့် ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့တင်ပြ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ရှိသေလေးစားစွာဖြင့်
လျှောက်ထားသူ

**(Mr. Wichian Chaisathaporn)**
Proposed Director
**Thai Faster Products and M.K. Co., Ltd.**

To
Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No. (1), Thit Sar Road, Yankin Township, Yangon Region.

Dated : 15.9.2014.

Subject: **Submitting for Tax Exemption and Reliefs to Myanmar Investment Commission according to Section (27)**

Dear Sir,

1. Regarding about above subject, we, "**Thai Faster Products and M.K. Co., Ltd.**" is applying to register as a joint venture company under Foreign Investment Law for doing the **Manufacturing and Distribution of Foods, Soft Drinks and Jelly, Candy, Snack, Wafer and Biscuits** in the Republic of the Union of Myanmar. Our factory is situated at Plot No.467/A, Kanaung Min Thar Gyi Street, Shwe Lin Pan Industry Zone, Hlaing Tharyar Township, Yangon Region, The Republic of the Union of Myanmar and our land area is (2.036)Acre. So, we would like to request a kind permission from Myanmar Investment Commission for doing subjected business with advanced technology and machines in Myanmar under the Foreign Investment Law.

2. Our company plan to define the estimated authorized capital of USD (2,000,000.00) and the initial issued capital is same with authorized capital and it is USD (2,000,000.00). We will invest all investment in cash. We will apply again if we need to order more machinery in the future.

3. We will hire local experts and foreign experts for our business activities related with production of Foods, Soft Drinks and Jelly, Candy, Snack, Wafer and Biscuits. We planned to sell and distribute (90%) of the total production in local market and (10%) will be exported to foreign countries.

4. In order to get revenue for the Republic of the Union of Myanmar, to provide job opportunities for Myanmar citizens, and to improve economic development, we kindly request to get permit from Myanmar Investment Commission and we also request for tax incentive and relief according to section (27).

5. Moreover, we would like to request for tax exemption to Ministry of Finance for income tax from income which will get from the manufacturing industry for the first (5) years.

6. We attached the following documents with the proposal :

   1) The proposal by proposed director for doing foreign investment at Republic of the Union of Myanmar
   2) Evidence of businesses and financial standing
   3) Company Memorandum of Association and Articles of Association (Draft)
   4) Graph for calculation of national revenue
   5) Table for Financial Profit for Government

Yours' truly,
With Regards,

**(Mr. Wichian Chaisathaporn)**
Proposed Director
**Thai Faster Products and M.K. Co., Ltd.**

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၄ ခုနှစ်၊ စက်တင်ဘာ လ (၁၅)ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံ၊ နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၂၇တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။**

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ **"ထိုင်းဖက်စ်တာ ပရောဒက်စ် အင်န် အမ်ကေ ကုမ္ပဏီလီမိတက်"** "Thai Faster Products and M.K. Co., Ltd." သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုဇုံ၊ ကနောင်မင်းသားကြီးလမ်း၊ မြေကွက်အမှတ် (၄၆၇-အေ) ရှိ ဧရိယာ (၂.၀၃၆ ဧက) အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိ စက်ရုံတွင် **"စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့်၊ ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း"** အတွက် (Manufacturing Industry) ကို ဆောင်ရွက်ရန် ဖက်စပ်လုပ်ငန်းဆောင်ရွက်ခွင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ ပေးပို့တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။ ထိုသို့ ထုတ်လုပ်ရာတွင် ပြည်ပမှ ကုန်ကြမ်းပစ္စည်းများတင်သွင်းကာ အဆင့်မြင့်နည်းပညာများ၊ ခေတ်မီစက်ကိရိယာများကို အသုံးပြုဆောင်ရွက် သွားမည် ဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ကုမ္ပဏီသည် အထက်ဖော်ပြပါလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန်အတွက် မတည်ရင်းနှီးငွေကို အမေရိကန်ဒေါ်လာ(၂,၀၀၀,၀၀၀.၀၀) ထားရှိကာ ကနဦးရင်းနှီးမြှုပ်နှံခြင်း အမေရိကန်ဒေါ်လာ (၂,၀၀၀,၀၀၀.၀၀) အား ငွေကြေးတန်ဖိုးအားဖြင့် ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ လိုအပ်သော စက်ပစ္စည်းများ၊ ပရိဘောဂများ၊ လုပ်ငန်းသုံးမော်တော်ယာဉ်များအားလည်း ထိုရင်းနှီးငွေဖြင့် ပြည်တွင်း၌ပင် ဝယ်ယူရန်စီစဉ်ထားရှိပါသည်။ နောင်တွင် ထပ်မံ၍ လိုအပ်သည့်စက်ပစ္စည်းများကို လိုအပ်ပါက ခွင့်ပြုမိန့်ထပ်မံတောင်းခံ၍ တင်သွင်းမည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့ ထုတ်လုပ်မှုလုပ်ငန်းအတွက် လိုအပ်သောဝန်ထမ်းများကို ပြည်တွင်း/ပြည်ပရှိ အတတ်ပညာရှင်များကို အသုံးပြုထုတ်လုပ်သွားမည် ဖြစ်ပါသည်။ ထုတ်လုပ်မှုမှ (၉၀%) အား ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချ၍ (၁၀%) နိုင်ငံခြားသို့ ပြန်လည်တင်ပို့ရောင်းချရန် ရည်မှန်းချက်ထား ရှိပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် ရသင့်ရထိုက်သောအခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု တိုးတက်စေရန်လည်းကောင်း ကျွန်တော်တို့ကုမ္ပဏီ၏ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်ထားခြင်းကိုလက်ခံစဉ်းစားပေးပါရန် နှင့် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ(၂၇)တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

၅။ ထို့အပြင် အဆိုပြုတင်သွင်းသော ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့်လုပ်ငန်းမှ ရရှိလာသော ပထမ(၅)နှစ် အတွက် ဝင်ငွေခွန်သက်သာခွင့်ပြုရန်အတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြု ပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါသည်။

၆။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်များကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်၊

(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ

(၃) ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများမူကြမ်း

(၄) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ

(၅) နိုင်ငံတော်မှရရှိမည့်ဘဏ္ဍာရေးအကျိုးအမြတ်တွက်ချက်မှုဇယား

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

**(Mr. Wichian Chaisathaporn)**

Proposed Director

**Thai Faster Products and M.K. Co., Ltd.**

To,
Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No. (1), Thit Sar Road, Yankin Township, Yangon Region.

Dated : 15.9.2014.

Subject : **Undertaking for business progress to Myanmar Investment Commission**

Dear Sir,

1. Regarding about above subject, we, "**Thai Faster Products and M.K. Co., Ltd.**" is applying to register as a joint venture company under Foreign Investment Law for doing the **Manufacturing and Distribution of Foods, Soft Drinks and Jelly, Candy, Snack, Wafer and Biscuits** in the Republic of the Union of Myanmar. Our factory is situated at Plot No.467/A, Kanaung Min Thar Gyi Street, Shwe Lin Pan Industry Zone, Hlaing Tharyar Township, Yangon Region, The Republic of the Union of Myanmar and our land area is (2.036)Acre. So, we would like to request a kind permission from Myanmar Investment Commission for doing subjected business with advanced technology and machines in Myanmar under the Foreign Investment Law. We planned to sell and distribute (90%) of the total production in local market and (10%) will export to foreign countries.

   (a) Our company is a joint venture company invested by Thai Faster Products Co., Ltd., Mantakanok Co., Ltd. for (60%) and (30%) respectively and M.K Co., Ltd. for (10%) to do **Manufacturing and Distribution of Foods, Soft Drinks and Jelly, Candy, Snack, Wafer and Biscuits** in the Republic of the Union of Myanmar.

   (b) We undertake that our business will support in building up of National Economy.

   (c) We will aware of environment issues, fire safety and will plan to prevent emergency situation and natural disaster. We will also arrange to control the pollution around the area with the guidance of rules and regulations in the Republic of the Union of Myanmar.

(d) **"Thai Faster Products and M.K. Co., Ltd."** can guarantee that the machines we import are in good condition.

(e) We undertake all foreign currency transactions related with this proposed business will do in either MFTB or MICB or any private bank that got the authorized dealer license.

(f) We will follow every rules and regulations for money transactions and exchange system which was set by government for using expenses and salaries of employees.

2. We, **"Thai Faster Products and M.K. Co., Ltd."** would like to undertake to follow all laws, rules and regulations, procedures, orders and instructions enforced by government of the Republic of the Union of Myanmar.

Yours' truly,
With Regards,

**(Mr. Wichian Chaisathaporn)**
Proposed Director
**Thai Faster Products and M.K. Co., Ltd.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၄ ခုနှစ်၊ စက်တင်ဘာ လ (၁၅)ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။**

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ "**ထိုင်းဖက်စ်တာ ပရောဒက်စ် အင်န် အမ်ကေ ကုမ္ပဏီလီမိတက်**" "Thai Faster Products and M.K. Co., Ltd." သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုဇုံ၊ ကနောင်မင်းသားကြီးလမ်း၊ မြေကွက်အမှတ် (၄၆၇-အေ) ရှိ ဧရိယာ (၂.၀၃၆ ဧက) အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိ "**စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် ၊ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း**" အတွက် (Manufacturing Industry) ကို လုပ်ကိုင်ရန် ဆောင်ရွက်ခွင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။ ထိုသို့ ထုတ်လုပ်ရာတွင် ပြည်ပမှ ကုန်ကြမ်းပစ္စည်းများ တင်သွင်းကာ အဆင့်မြင့်နည်းပညာများ၊ ခေတ်မီ စက်ကိရိယာများကို အသုံးပြုဆောင်ရွက်သွားမည် ဖြစ်ပါသည်။ ထုတ်လုပ်မှုမှ (၉၀%) အား ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချ၍ (၁၀%) နိုင်ငံခြားသို့ ပြန်လည် တင်ပို့ရောင်းချရန် ရည်မှန်းချက်ထား ရှိပါသည်။

(က) ဤလုပ်ငန်းသည် ထိုင်းနိုင်ငံတွင်ဖွဲ့စည်းတည်ထောင်ထားသော "Thai Faster Products Co., Ltd." နှင့် "Mantakanok Co., Ltd." တို့မှ (၆၀%) နှင့် (၃၀%) အသီးသီးပါဝင်လျက် မြန်မာနိုင်ငံတွင်ဖွဲ့စည်း တည်ထောင်ထားသော "M.K Co., Ltd." မှ (၁၀%) ပါဝင်ခြင်းဖြင့် ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ခွင့်ကို တင်ပြလျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

(ခ) ဤလုပ်ငန်းသည် နိုင်ငံတော်အတွက် စီးပွားရေးလုပ်ငန်းလုပ်ဆောင်သော အခြေခံစီးပွားရေး လုပ်ငန်းအဆောက်အအုံကို အထောက်အကူပြုသောလုပ်ငန်းဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါ သည်။

(ဂ) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် သဘာဝဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုအတွက်လည်း အစီအမံများပြုလုပ်သွားမည့်အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများ၊ နည်းဥပဒေ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင် အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဃ) **"ထိုင်းဖက်စ်တာ ပရောဒတ်စ် အင်န် အမ်ကေ ကုမ္ပဏီလီမိတက်"** "Thai Faster Products and M.K. Co., Ltd." အနေဖြင့် ပြည်ပမှ ဝယ်ယူတင်သွင်းမည့် စက်ပစ္စည်းများရှိခဲ့ပါကလည်း ကောင်းမွန်သော အရည်အသွေးရှိသော ပစ္စည်းများကိုသာ တင်သွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ် ပါသည်။

(င) ဤအဆိုပြုလုပ်ငန်းများဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့်ရရှိသောအခကြေးငွေများကို "မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်" (MFTB) သို့မဟုတ် "မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်" (MICB) သို့မဟုတ် "နိုင်ငံခြားငွေများကို တရားဝင်ရောင်းဝယ်ခွင့်ပြုမိန့်ရရှိထားသော ပုဂ္ဂလိကဘဏ်များ" ၏ ငွေစာရင်းသို့ မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါ သည်။

(စ) ယင်းသို့ပေးသွင်းထားရှိသည့် နိုင်ငံခြားငွေများကို နိုင်ငံတော်မှသတ်မှတ်ခွင့်ပြုထားသည့် နိုင်ငံခြားငွေလဲလှယ်ခြင်းဥပဒေ၊ နည်းဥဒေများ၊ စည်းမျဉ်းစည်းကမ်းများနှင့် အခါအားလျော်စွာ ပြဋ္ဌာန်းလာသော ညွှန်ကြားချက်များအတိုင်းလဲလှယ်ပြီး၊ လုပ်ငန်းလိုအပ်ချက်နှင့် မိမိလုပ်ငန်းအတွက် အလုပ်သမားများ၏ လုပ်အားခများအားပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ထို့အပြင် ကျွန်တော်များ **"ထိုင်းဖက်စ်တာ ပရောဒတ်စ် အင်န် အမ်ကေ ကုမ္ပဏီလီမိတက်"** "Thai Faster Products and M.K. Co., Ltd." အနေဖြင့် နိုင်ငံတော်အစိုးရမှပြဋ္ဌာန်းထားသော ဥပဒေများ၊ နည်းဥဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းဥပဒေများ၊ အမိန့်များ၊ ညွှန်ကြားချက်များနှင့် အခါအားလျော်စွာ ပြဋ္ဌာန်းထားသောအမိန့်များ၊ စည်းမျဉ်းစည်းကမ်းများ၊ ညွှန်ကြားချက်များကိုလည်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ထပ်ဆင့်ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

**(Mr. Wichian Chaisathaporn)**
Proposed Director
**Thai Faster Products and M.K. Co., Ltd.**

*Form (1)*

***Proposal Form of Investor/Promoter for the investment to be made in the Republic of the Union of Myanmar***

*To*

*Chairman*
*Myanmar Investment Commission*

*Reference No. - MIC/Thai Faster Products and M.K. Co., Ltd. 001/2014*
*Date :* 15.9.2014.

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with the Foreign Investment Law by furnishing the following particulars:-

**1.** The Investor's or Promoter's:-

| | | |
|---|---|---|
| (a) | Name | : Mr. Wichian Chaisathaporn |
| (b) | Father's Name | : Mr. Chaisathaporn |
| (c) | ID No./Passport No. | : Z 110742 |
| (d) | Citizenship | : Thai |
| (e) | Address | : |
| | (i) Address in Myanmar | : |
| | (ii) Residence abroad | : 99/99 Moo.4, AomNoy Sub-district, Kratungban District, Samutsakorn Province, Thailand. |
| (f) | Name of Principal Organization | : "Thai Faster Products Co., Ltd. " |
| (g) | Type of Business | : Manufacturing and Distribution of Foods and Beverage, Jelly,Candy, Snack, Wafer and Biscuits |
| (h) | Principal Company's Address | : 99/99 Moo.7, AomNoy Sub-district, Kratungban District, Samutsakorn Province, Thailand. |

**2.** If the investment business is formed under Joint Venture, partners':-

| | | |
|---|---|---|
| (a) | Name | : ) Please see "Annexure No (I)" |
| (b) | Father's Name | : ) |
| (c) | ID/NRC No/ Passport No. | : ) |
| (d) | Citizenship | : ) |
| (e) | Address: | : ) |
| | (i) Address in Myanmar | : ) |
| | (ii) Residence Abroad | : ) |
| (f) | Parent Company | : ) |
| (g) | Type of business | : ) |
| (h) | Parent Company's Address | : ) |




# THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
# MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

## FORM 1

## FORM OF PERMIT (TEMPORARY)

## (See section 27 A)

Permit No..........092/2014...............

Date ..........5th February, 2014..........

The Ministry of National Planning and Economic Development of the Government of the Republic of the Union of Myanmar in pursuance of the Myanmar Companies Act hereby grants a permit to the ......THAI FASTER PRODUCTS AND M.K. COMPANY LIMITED.......... in respect of which particulars are detailed below, to carry on its business within the Republic of the Union of Myanmar subject to the provisions contained in the said Act.

| | | |
|---|---|---|
| (1) | Name of the Company | Thai Faster Products and M. K. Co.,Ltd. |
| (2) | Country of incorporation of the company. | The Republic of the Union of Myanmar. |
| (3) | Location of the company's Head Office and / or Principal Office in the Republic of the Union of Myanmar. | No. (467/A), Kanaung Min Thar Gyi Street, Shwe Lin Pan Industry Zone, Hlaing Tharyar Township, Yangon. |
| (4) | The object for which the company is formed (field of business). | Manufacturing and Distribution of Sweet, Snack, Biscuit, Candy and Jelly in Myanmar. |
| (5) | (a) The amount of Capital and the number of shares into which the Capital is divided. | US$ 2,000,000/ divided into 2, 000,000 Share of US$ 1 each. |
| | (b) If more than one class of shares is authorised, the description of each class. | Only one class. |
| (6) | The names, addresses and nationality of the directors. | As per List attached. |
| (7) | The maximum amount of indebtedness which may be incurred by the company and also a prohibition against the contracting of debts in excess of that amount. | As per conditions attached. |
| (8) | Period of validity of permit. | February 5, 2014 to August 4, 2014. (SIX MONTHS) |
| (9) | Statement of compliance with legal requirements for issue of Capital including the amount to be paid in before business is commenced. | As per conditions attached. |
| (10) | Statement of compliance with such conditions as may be prescribed. | The conditions attached to the permit and conditions as may be prescribed from time to time are also to be strictly adhered to by the company. |

By order

**For Director General**
**(Nang Yi Yi Than-Director)**
**Directorate of Investment and Company Administration**



မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

ထိုင်း ဖက်စတာ ပရော်ဒတ်စ် အင်န်အမ်ကေ **ကုမ္ပဏီ လီမိတက်**

၏

**သင်းဖွဲ့မှတ်တမ်း**

နှင့်

သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

# Memorandum Of Association

*AND*

# Articles Of Association

*OF*

THAI FASTER PRODUCTS AND M.K. **COMPANY LIMITED**



မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ထိုင်း ဖက်စ်တာ ပရေဒက်စ် အင်န် အမ်ကေ ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏ အမည်သည် "ထိုင်း ဖက်စ်တာ ပရေဒက်စ် အင်န် အမ်ကေကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ဒေါ်လာ – ၂၀၀၀၀၀၀ /- (ကျပ် ဒေါ်လာ၁နှစ်သန်း ဟိတိ) ဖြစ်၍ ဒေါ်လာ ၁ – ၁ /- (ကျပ် တစ်ဒေါ်လာ ၁ တိတိ) တန် အစုရှယ်ယာပေါင်း (၂၀၀၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေအထွေထွေ ပြဋ္ဌာန်းချက်များ နှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

၆။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဘီစကွတ်၊ချိုချဉ်နှင့်ဂျယ်လီများထုတ်လုပ်ဖြန့်ဖြူးရောင်းချရန်

၇။ ကုမ္ပဏီမှ သင့်တော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည့်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်း များကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထား ရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | Thai Faster Products Co.,Ltd.<br>99/99 Moo 7AomNoy Sub-district, Kratungban District Samutsakorn Province Thailand.<br>ကိုယ်စားပြု<br>Mr. Wichian Chaisathaporn 99/99 Moo 4 AomNoy Su-district,Kratungban District Samutsakorn Province Thailand | Incorporated in Thai<br>Reg No. 0745555004-749<br>Thai<br>PP No. Z110742 | 1,200,000 | |
| 2. | Mantakanok Co.,Ltd.<br>106/2,Charoen-rad Road, Bangklo Sub-district,Bangkolam District,Bangkok,Thailand<br>ကိုယ်စားပြု<br>Mr. Paradorn Kunkongkaphan<br>1349/35, Charoennakorn Road Banglamphulang, Klongsan, Bangkok, Thailand | Incorporated in Thai<br>Reg No. 0575541000-136<br>Thai<br>PP No. M905832 | 600,000 | |
| 3. | MK Co.,Ltd.<br>333, Pyay Road, Sanchaung Tsp., Yangon, Myanmar.<br>ကိုယ်စားပြု<br>Mr. Myint Oo<br>333, Pyay Road, Sanchaung Township, Yangon, Myanmar | Incorporated in Myanmar<br>Reg No.<br>Myanmar<br>PP No. M233613 | 200,000 | |

မြို့။ နေ့စွဲ၊ ခုနှစ်၊ လ၊

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

U SANN MAUNG (B.A., R.L)
ADVOCATE & NOTARY PUBLIC
No.27(A), Mahabandoola Garden St,
Kyauktada Township,
Yangon, Myanmar.
Ph: 240499, 581453

11 NOV 2013 Regd: No. 107/13



## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ထိုင်း ဖက်စ်တာ ပရော့ဒက်စ် အင်န် အမ်ကော ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည်အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကိုငါးဆယ် အထိသာကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက်ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာ ကျပ် ဒေါ်လာ ၁-၂၀၀၀၀၀၀ /-(ကျပ် ဒေါ်လာ ၁ နှစ်သန်း တိတိ) ဖြစ်၍ ငွေကျပ် ဒေါ်လာ ၁ - ၁ /-(ကျပ် တစ် ဒေါ်လာ တိတိ) တန် အစုရှယ်ယာပေါင်း ( ၂၀၀၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့်ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည်ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်း ဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများကသတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန်တာဝန်ရှိစေရမည်။ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊သို့မဟုတ်ပယ်ဖျက်ခြင်းသို့မဟုတ်ရွှေ့ဆိုင်းခြင်းတို့ကိုဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦး ထက်မနည်း၊ ( ၁ ၀ )ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည် -
( ၁ ) Mr.Wichian Chaisathaporn
( ၂ ) Mr.Paradorn Kunkongkaphan
( ၃ ) Mr.Myint Oo
( ၄ ) Mr. Varith Bawonsakulwong
( ၅ ) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သောသတ်မှတ်ချက်များ၊ညဏ်ပူဇော်ခများဖြင့်ခန့်ထားရမည်ဖြစ်ပြီးအခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများအားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာအနည်းဆုံး ( – )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါကဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆိုပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည်နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေအာဏာများကိုမထိခိုက်စေဘဲဒါရိုက်တာများသည်အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့်မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ်အဆိုပါ ချေးငှားသောငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါ အဝင်ယခုလက်ရှိနှင့် နောင်ရှိမည့်ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ်တစ်စိတ်တဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံ စာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများအနေဖြင့် သော်လည်းကောင်း၊ သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံးသို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ၊ ထိုကဲ့သို့ မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီ နှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ် ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စများအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ် အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသ ကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စားဆောင်ရွက် နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာအဖြစ်ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကိုဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေစွန့်လွှတ်ခြင်း အား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စားလက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆိုခန့်ထားရန်နှင့် အဆိုပါယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီ အပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက်အပ်နှံရန်အပြင်ဖြန်ဖြေရေး ခုံသမာဓိ၏ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေး များအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီးမဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့်လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံ ပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့်အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပါပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်းသို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ် များခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ် သည်ဟုယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါကကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှတစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး ကြီးကို ကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့်နေရာ များတွင်ပြက္ခဒိန်နှစ်တစ်နှစ်လျှင်အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့် အထွေထွေအစည်း အဝေးကြီး နှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ်အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်းသတ်မှတ်ပြဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်း ထက်မနည်းပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန်အတွက် အစည်းအဝေး အထမြောက် သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက်နှစ်ဦးတည်းသာ ရှိသည့်ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့်အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအားခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မီသူများ အား ရုံးဝန်ထမ်းများအဖြစ်ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များ ကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့်အညီထားသိုထိန်းသိမ်းဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ရငွေ၊သုံးငွေများ၏ပမာဏနှင့်၎င်းရငွေ၊သုံးငွေများဖြစ်ပေါ်ခြင်းနှင့်စပ်လျဉ်းသည့်အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉ ။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများသို့မဟုတ် ဒါရိုက်တာ များက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများ နှင့် လိုက်လျောညီထွေဖြစ်ရမည်။

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက် စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိ တရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူးသို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ ဖြစ်စေ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီးတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့် ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | Thai Faster Products Co.,Ltd.<br><br>99/99 Moo 7AomNoy Sub-district, Kratungban District Samutsakorn Province Thailand.<br>ကိုယ်စားပြု<br>Mr. Wichian Chaisathaporn<br>99/99 Moo 4 AomNoy Su-district,Kratungban District Samutsakorn Province Thailand | Incorporated in Thai<br><br>Reg No. 0745555004-749<br><br>Thai<br><br>PP No. Z110742 | 1,200,000 | |
| 2. | Mantakanok Co.,Ltd<br><br>106/2,Charoen-rad Road, Bangklo Sub-district,Bangkolam District,Bangkok,Thailand<br>ကိုယ်စားပြု<br>Mr. Paradorn Kunkongkaphan<br><br>1349/35, Charoennakorn Road Banglamphulang, Klongsan, Bangkok, Thailand | Incorporated in Thai<br><br>Reg No. 0575541000-136<br><br>Thai<br><br>PP No. M905832 | 600,000 | |
| 3. | MK Co.,Ltd.<br><br>333, Pyay Road, Sanchaung Tsp., Yangon, Myanmar.<br>ကိုယ်စားပြု<br>Mr. Myint Oo<br><br>333, Pyay Road, Sanchaung Township, Yangon, Myanmar | Incorporated in Myanmar<br><br>Reg No.<br><br>Myanmar<br><br>PP No. M233613 | 200,000 | |

မြို့။ နေ့စွဲ၊

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

11 NOV 2013

U SANN MAUNG (B.A., R.L)
ADVOCATE & NOTARY PUBLIC
No.27(A), Mahabandoola Garden St,
Kyauktada Township,
Yangon, Myanmar.
Ph: 240499, 581453
Regd: No........114/13........



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

THAI FASTER PRODUCTS AND M.K. **COMPANY LIMITED**



I. The name of the Company is THAI FASTER PRODUCTS AND M.K. **COMPANY LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorized capital of the Company is USD 2,000,000/-(US$ Two Million Only) divided into ( 2,000,000 ) shares of US$ 1/- (~~Kyats~~ US$ One Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

**6. The Objective For Which The company is established are**

**Manufacturing and distribution of sweet, snack, biscuit, candy and jelly**

7. To borrow money for the benefit of the Company's business from any person, firm,company, bank or financial organization in the manner that the Company shall think fit.

**PROVISO:** Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere,save in so for as it may be entitled so as to do in accordance with the Laws,Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | Thai Faster Products Co.,Ltd.<br>99/99 Moo 7AomNoy Sub-district, Kratungban District Samutsakorn Province Thailand.<br>Represented by<br>Mr. Wichian Chaisathaporn<br>99/99 Moo 4 AomNoy Su-district, Kratungban District Samutsakorn Province Thailand | Incorporated in Thai<br>Reg No. 0745555004-749<br>Thai<br>PP No. Z110742 | 1,200,000 | |
| 2. | Mantakanok Co.,Ltd.<br>106/2,Charoen-rad Road, Bangklo Sub-district,Bangkolam District,Bangkok,Thailand<br>Represented by<br>Mr. Paradorn Kunkongkaphan<br>1349/35, Charoennakorn Road Banglamphulang, Klongsan, Bangkok, Thailand | Incorporated in Thai<br>Reg No. 0575541000-136<br>Thai<br>PP No. M905832 | 600,000 | |
| 3. | MK Co.,Ltd<br>333, Pyay Road, Sanchaung Tsp., Yangon, Myanmar<br>Represented by<br>Mr. Myint Oo<br>333, Pyay Road, Sanchaung Township, Yangon, Myanmar | Incorporated in Myanmar<br>Reg No.<br>Myanmar<br>PP No. M233613 | 200,000 | |

Township. Dated the day

*It is hereby certified that the persons mentioned above put their signatures in my presence.*

11 NOV 2013

U SANN MAUNG (B.A., R.L)
ADVOCATE & NOTARY PUBLIC
No.27(A), Mahabandoola Garden St,
Kyauktada Township,
Yangon, Myanmar.
Ph: 240499, 581453
Regd: No. 111/13



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

THAI FASTER PRODUCTS AND M.K. **COMPANY LIMITED**



1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   *(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   *(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is USD 2,000,000/-(US$ Two Million Only) divided into ( 2,000,000 ) shares of US$ 1 /- (~~Kyats~~ US$ One Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognized by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than (10 ).

The First Directors shall be:-

(1) Mr.Wichian Chaisathaporn
(2) Mr.Paradorn Kunkongkaphan
(3) Mr. Myint Oo
(4) Mr. Varith Bawonsakulwong
(5)

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debentures stocks of the Company charged upon all or any part of the property of the Company (both present and future ) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds , debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged up on all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director , General Manager , Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute conduct , defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Conpany.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange , cheques, promissory notes zreceipts,endorsements,releases, contracts and documents for or on behalf of the Company.

(14) To invest,place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future )as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make , vary and repeal bye- laws for the regulation of the business of the Company , the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts , deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceeding general meeting) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits .

## OFFICE STAFF

17. The Company shall maintain an office establisment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1)* ***all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:***

*(2)* ***all sales and purchases of goods by the Company ;***

*(3)* ***all assets and liabilities of the Company.***

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.



We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | Thai Faster Products Co., Ltd.<br>99/99 Moo 7AomNoy Sub-district, Kratungban District Samutsakorn Province Thailand.<br>Represented by<br>Mr.Wichian Chaisathaporn<br>99/99 Moo 4 AomNoy Su-district, Kratungban District Samutsakorn Province Thailand | Incorporated in Thai<br>Reg No. 0745555004-749<br>Thai<br>PP No. Z110742 | 1,200,000 | |
| 2. | Mantakanok Co.,Ltd<br>106/2, Charoen-rad Road, Bangklo Sub-district, Bangkolam District, Bangkok, Thailand<br>Represented by<br>Mr. Paradorn Kunkongkaphan<br>1349/35, Charoennakorn Road Banglamphulang, Klongsan, Bangkok, Thailand | Incorporated in Thai<br>Reg No. 0575541000-136<br>Thai<br>PP No. M905832 | 600,000 | |
| 3. | MK Co.,Ltd<br>333, Pyay Road, Sanchaung Tsp., Yangon, Myanmar<br>Represented by<br>Mr. Myint Oo<br>333, Pyay Road, Sanchaung Township, Yangon, Myanmar | Incorporated in Myanmar<br>Reg No.<br>Myanmar<br>PP No. M233613 | 200,000 | |

Township. Dated the day

*It is hereby certified that the persons mentioned above put their signatures in my presence.*

U SANN MAUNG (B.A., R.L)
ADVOCATE & NOTARY PUBLIC
No.27(A), Mahabandoola Garden St,
Kyauktada Township,
Yangon, Myanmar.
Ph: 240499, 584453
Regd: No. 1171/13

11 NOV 2013



To,

Chairman
Myanma Investment Commission
The Republic of the Union of Myanmar

Dated : 14-10-2014

Dear Excellency,

Subject : ***Explanation for Corporate Social Responsibility***

Regarding about above subject matter, we, "Thai Faster Products and M. K. Co., Ltd." are applying to register as a Foreign Investment Company under Foreign Investment Law in Myanmar. Our factory is situated at Plot No.467/A, Kanaung Min Thar Gyi Street, Shwe Lin Pan Industry Zone, Hlaing Tharyar Township, Yangon Region, The Republic of the Union of Myanmar and our land area is (2.036) Acres. So, we would like to request a kind permission from Myanmar Investment Commission for doing subjected business, **Manufacturing and Distribution of Foods, Soft Drinks and Jelly, Candy, Snack, Wafer and Biscuits** with advanced technology and machines in Myanmar.

Regarding to the contribution for Corporate Social Responsibility (CSR), we have planned to contribute the fund of 1 % upon our net profit after tax with the policy of capacity building for our employees with the view to enhance Industrial development.

With this policy, we are planning to provide the trainings to upgrade the skills of our employees and also planning to support the education assistance to their children. We are planning to donate house of ages and orphanages. Moreover, we plan to provide development in surroundings of our factory.

I would like to thanks Your Excellency in advance for your kind understanding and I am very much appreciated for your kind approval for our investment proposal.

Yours' truly,

With Regards,

**(Mr. Wichian Chaisathaporn)**
Proposed Director
**Thai Faster Products and M.K. Co., Ltd.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ (၁၆)ရက်။

အကြောင်းအရာ။ **။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅-၁၀-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ရက -၂/ န-၁၀၉/၂၀၁၄ (၀၁၄၇)။

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့ ၏ **"ထိုင်းဖက်စ်တာ ပရောဒက်စ် အင်န် အမ်ကေ ကုမ္ပဏီလီမိတက်"** "Thai Faster Products and M.K. Co., Ltd." သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုဇုံ၊ ကနောင် မင်းသားကြီးလမ်း၊ မြေကွက်အမှတ် (၄၆၇-အေ) ရှိ ဧရိယာ (၂.၀၃၆ ဧက) အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိ စက်ရုံတွင် **"စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် ၊ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း"** အတွက် (Manufacturing Industry) ကို လုပ်ကိုင်ရန် ဖက်စပ်ကုမ္ပဏီ တည်ထောင်ဆောင်ရွက်ခွင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့တင်ပြ လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းချက်ပါစာအရ စက်မှုဝန်ကြီးဌာန၏ သဘောထား ပြန်ကြားချက်အား အောက်ဖော်ပြပါအတိုင်းလိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများအား အသုံးမပြုမီ လျှပ်စစ်ဥပဒေနှင့်အညီ စစ်ဆေးပါမည်။

(ခ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးအတွက် စီမံဆောင်ရွက်မည့်အပြင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ၏ လမ်းညွှန်မှုများအားလည်း လိုက်နာဆောင်ရွက်ပါမည်။

(ဂ) လုပ်ငန်းလည်ပတ်ရန်အတွက် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်လုပ်ကိုင် ပါမည်။

(ဃ) သကြားနှင့် ထုပ်ပိုးပစ္စည်း ကပ်ထူပုံးများအား ပြည်တွင်ဈေးကွက်မှ ဝယ်ယူအသုံးပြုပါမည်။ အဆိုပြုလွှာ၏ ကုန်ကြမ်းစာရင်းအားလည်းပြင်ဆင်ပြီးဖြစ်ပါသည်။ (ပူးတွဲ)

(c) Artificial colour, Artificial flavor များသည် food grade ဖြစ်စေရန် ကြပ်မတ်ဆောင်ရွက်မည်ဟု ဝန်ခံကတိပြုပါသည်။

(စ) ကုန်ကြမ်းပစ္စည်းစာရင်းတွင် ဝယ်ယူရန် ဖော်ပြထားသော Konjakku Flour သည် ဂျယ်လီထုတ်လုပ်မှုတွင် အသုံးပြုရန်အတွက် ဖြစ်ပါသည်။ ထို Konjakku Flour သည် အမျှင်ဓါတ်ပါဝင်မှုများသောကြောင့် ကိုယ်ခန္ဓာ၏ pH level ထိန်းညှိမှုအတွက်ကောင်းမွန်သည့်အပြင် အစာချေခြင်းအားကောင်းမွန်ရန် အထောက်အပံ့ ဖြစ်စေပါသည်။

လေးစားစွာဖြင့်

**(Mr. Wichian Chaisathaporn)**
Proposed Director
**Thai Faster Products and M.K. Co., Ltd.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ( ၁၇ )ရက်။

အကြောင်းအရာ။ **။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅-၁၀-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ရက -၂/ န-၁၀၉/၂၀၁၄ (၀၁၄၉-က)။

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့ ၏ **"ထိုင်းဖက်စ်တာ ပရောဒက်စ် အင်န် အမ်ကေ ကုမ္ပဏီလီမိတက်"** **"Thai Faster Products and M.K. Co., Ltd."** သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုဇုံ၊ ကနောင်မင်းသားကြီးလမ်း၊ မြေကွက်အမှတ် (၄၆၇-အေ) ရှိ ဧရိယာ (၂.၀၃၆ ဧက) အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိ စက်ရုံတွင် **"စားသောက်ကုန်၊ အချိုရည် နှင့် ဂျယ်လီ၊ သကြားလုံး၊ အဆာပြေစားနိုင်သောမုန့်၊ ဝေဖာမုန့် ၊ဘီစကွတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း"** အတွက် (Manufacturing Industry) ကို လုပ်ကိုင်ရန် ဖက်စပ်ကုမ္ပဏီ တည်ထောင်ဆောင်ရွက်ခွင့်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့တင်ပြ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းချက်ပါစာအရ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၏ သဘောထားပြန်ကြားချက်အား အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(က) အထက်ဖော်ပြပါထုတ်လုပ်မှုလုပ်ငန်းများဆောင်ရွက်ရာတွင် ထုတ်လုပ်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သော ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန် လုပ်ငန်းစီမံကိန်းများရေးဆွဲခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် လုပ်ငန်းစနစ်၊ စက်ပစ္စည်းများ အသုံးပြုခြင်း၊ ဖော်ပြထားသော ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များ အကောင်အထည်ဖော်ဆောင်ရွက်ပါမည်။

(ခ) ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုမဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ၏ လမ်းညွှန်မှုများနှင့်အညီ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) ရေးဆွဲဆောင်ရွက်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည်တင်ပြပါမည်ဟု ဝန်ခံကတိပြုပါသည်။

(ဂ) ပြဋ္ဌာန်းထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

**(Mr. Wichian Chaisathaporn)**
Proposed Director
**Thai Faster Products and M.K. Co., Ltd.**